





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
# အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ်-ဧရာ-၀၁၁/၂၀၁၈ ၂၀၁၈ ခုနှစ်၊ ဧပြီ လ ၃၀ ရက်

ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅. ပုဒ်မခွဲ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဒေါက်တာခင်ရတနာဝင်း

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ်-၄၃၊ စံရွေးတန်းလမ်း၊ စံရွေးတန်းရပ်ကွက်၊ သုံးဆယ်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ International Green Land Trading Company Limited အမှတ်-၄၃၊ စံရွေးတန်းလမ်း၊ စံရွေးတန်းရပ်ကွက်၊ သုံးဆယ်မြို့

(၅) ဖွဲ့စည်းရာအရပ် မြန်မာနိုင်ငံ

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ဟိုတယ်နှင့်ကလေးကစားကွင်းလုပ်ငန်း

(၇) ရင်နှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ညောင်တုန်းမြို့နယ်၊ မဲဇလီဒလကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၁၇၆၊ မဲဇလီဒလကွင်း၊ ဦးပိုင်အမှတ်-၈၂/၁၊ ၈၃/၁၊ ၇၅၊ ၆၃၊ ၆၄/၂၊ ၆၅၊ ၆၆/၂၊ ၃၃/၂၊ ၃၅၊ ၆၇၊ ၆၆/၃ ရှိ မြေ ၈.၈၈ ဧက

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၅၀၀၀.၀၀ သန်း

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၁ နှစ်

(၁၂) အတည်ပြုမိန့် သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် INTERNATIONAL GREEN LAND TRADING COMPANY LIMITED (အပြည့်ပြည့်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်)



ဥက္ကဋ္ဌ
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ




ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

OSS စုပေါင်းရုံး၊ မြက်တို၊ ပုသိမ်မြို့

စာအမှတ်၊ ဧရက/အ-၀၁၂/ဟိုတယ်/ ၂၀၁၈(၁၂၄)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဧပြီ လ ၃၀ ရက်

အကြောင်းအရာ။ **International Green Land Trading Co., Ltd. (အပြည်ပြည်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်)၏ ရာခိုင်နှုန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဟိုတယ်နှင့် ကလေးကစားကွင်းလုပ်ငန်း အတည်ပြုမိန့် အပေါ် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ International Green Land Trading Co., Ltd. ၏ ၇-၃-၂၀၁၈ ရက်စွဲပါတင်ပြစာ

၁။ International Green Land Trading Co., Ltd. (အပြည်ပြည်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) မှ ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ညောင်တုန်းမြို့နယ်၊ မဲဇလီဒလကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၃၇၆၊ မဲဇလီဒလကွင်း၊ ဦးပိုင်အမှတ်- ၈၂/၁၊ ၈၃/၁၊ ၇၅၊ ၆၃၊ ၆၄/၂၊ ၆၅၊ ၆၆/၂၊ ၃၃/၂၊ ၃၅၊ ၆၇၊ ၆၆/၃ ရှိ စုစုပေါင်းမြေ ၈.၈၈ ဧက တွင် ရာခိုင်နှုန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဟိုတယ်နှင့်ကလေးကစားကွင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလွှာ တင်ပြခြင်းအား ၂၀၁၈ ခုနှစ် ဧပြီလ ၂၇ ရက်နေ့ တွင်ကျင်းပပြုလုပ်သော ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီ၏ (၂/၂၀၁၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် International Green Land Trading Co., Ltd. (အပြည်ပြည်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) အား ဟိုတယ်နှင့်ကလေးကစား ကွင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ဧရာ-၀၁၁/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ International Green Land Trading Co., Ltd. (အပြည်ပြည်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့် အရ လုပ်ငန်းဆောင်ရွက်ရာတွင် တစ်ဖက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) International Green Land Trading Co., Ltd. (အပြည်ပြည်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ ဟိုတယ်နှင့်ကလေးကစားကွင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) International Green Land Trading Co., Ltd. (အပြည်ပြည်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) သည် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအတည်ပြုလျှောက်ထားလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

(ဂ) International Green Land Trading Co., Ltd. (အပြည်ပြည်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆၅ နှင့် နည်း ဥပဒေ အခန်း(၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက် ရမည်။

(ဃ) International Green Land Trading Co., Ltd. (အပြည်ပြည်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) အနေဖြင့် ရင်းနှီးမြှုပ်နှံမှုပုံစံကို ပြောင်းလဲခြင်းကြောင့် ခွင့်ပြုမိန့်ရယူရန်လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ သတ်မှတ်ချက်များနှင့် အကျုံးဝင်သွားပါက ယင်းပြောင်းလဲမှု မဆောင်ရွက်မီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၉ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြရမည်။

(င) International Green Land Trading Co., Ltd. (အပြည်ပြည်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(စ) International Green Land Trading Co., Ltd. (အပြည်ပြည်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်း ကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်း နှင့် လုပ်ငန်းလွှဲ ပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဆ) International Green Land Trading Co., Ltd. (အပြည်ပြည်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ အတည်ပြုမိန့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံး ပြီးနောက် သုံးလ အတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအားသတ်မှတ်ပုံစံ ဖြင့် ကုမ္ပဏီ၏ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင် ရုံး၏ ဝက်(ဘ်) ဆိုဒ်သို့ တင်ပြရမည်။

(ဇ) International Green Land Trading Co., Ltd. (အပြည်ပြည်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ် အတွင်း လုပ်ငန်း အစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်ကသတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ International Green Land Trading Co., Ltd. (အပြည်ပြည်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်း သဘာဝ အရဖြစ်စေ၊ အခြား လိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရ ဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာ ဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင် ဖြစ်စေ သက်ဆိုင်ရာဌာန ၏ သတ်မှတ်ချက်များ နှင့်အညီ ဆောင်ရွက် ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(လှမိုးအောင်)
ဥက္ကဋ္ဌ
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

International Green Land Trading Co., Ltd. (အပြည်ပြည်ဆိုင်ရာ စိမ်းလဲ့မြေ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်)

ဖြန့်ဝေခြင်း

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန